


**စီစဉ်သူ**
မောင်မျိုး (မြင့်မိုရ်မေမေစာပေ)

**ဇာတ်ညွှန်း**
ကိုသုခ

**ဘာသာပြန်**
ဦးလှကြွယ်

**ပန်းချီ**
မျိုးမာန်

**မျက်နှာဖုံးပန်းချီ**
သိန်းရွှေကြည်

**အတွင်းကာလာ**
ဖြိုးဥက္ကာကြည်

**အတွင်းဖလင်**
စိန်နဂါး

**အတွင်းနှင့်မျက်နှာဖုံးပုံနှိပ်**
ဦးဇေမျိုးဦး (အောင်မြင့်မိုရ်ပုံနှိပ်တိုက်)
(မြ – ၀၀၅၇၇)
အမှတ်(၁၂၉၉)၊ အောင်သုခ(၂၇)လမ်း၊
(၆)အရှေ့ရပ်ကွက်၊ သာကေတမြို့နယ်၊ ရန်ကုန်မြို့။

**စာအုပ်ချုပ်**
အောင်မြင့်မိုရ်

**ထုတ်ဝေသူ**
ဒေါ်ထွေးထွေးသိန်း (ငွေမှုံကြယ်လစဉ်)
(မြ – ၀၀၈၂၇)

**ဖုတ်ဝေသည့်ခုနှစ်**
၂၀၁၆ ခုနှစ်၊ ဇွန်လ (ပထမအကြိမ်)
အုပ်ရေ (၅၀၀)၊ တန်ဖိုး– ၁၅၀၀ ကျပ်

**ဖြန့်ချိရေး**
မြင့်မိုရ်မေမေစာပေ
၀၉ ၅၀၂၉၃၃၆၊ ၀၉ ၄၂၀၀၄၄၆၈၄

**Arrangement**
Maung Myo (Myint Moh Maymay Literature)

**Scenario**
Ko Thu Kha

**Translator**
U Hla Kywe

**Illustration**
Myo Man

**Cover Illustration**
Thein Shew Kyi

**Inside Colour**
Phyo Oakar Kyi

**Inside Film**
(CTP) Sein Na Gar

**Inside and Cover Press**
U Zay Myo Oo (Aung Myint Moh Printing Press)
(Permanence-00577)
No.1299, Aung Thu Kha (27) Street,
(6) East Quarter, Tharkayta Township, Yangon.

**Binding**
Aung Myint Moh

**Publisher**
Daw Htwe Htwe Thein (Nwe Mohn Kyel monthly)
(Permanence-00826)

**Date of Publishing**
2016, June (1st time)
Circulation (500), Price1500 Kyats

**Distribution**
Myint Moh Maymay Literature
09 5029336, 09 420044684



## ထုတ်ဝေသူ၏စေတနာ

ယနေ့ လူငယ်လူရွယ်များနှင့် အထူးသဖြင့် ကလေးငယ်များ ဘာသာရေး စာပေကို စိတ်ဝင်တစား ဖတ်ရှုနိုင်ရန်အတွက် ရောင်စုံ ကာတွန်း ရုပ်ပြအဖြစ် သပ်ရပ်ခန့်ညားစွာ ဖတ်ချင်စဖွယ် ရှိလာအောင် မိမိအနေဖြင့် အစွမ်းကုန် ကြိုးစားထားပါသည်။

မိမိ၏ဆန္ဒမှာ ဤစာအုပ်ကို ကလေးသူငယ်များနှင့် လူငယ်လူရွယ်များ ဖတ်မိသွားပြီး အသိတရားနှင့် ဗဟုသုတရရှိပြီး လိမ္မာယဉ်ကျေးသော လူငယ်လူရွယ်များ ဖြစ်လာစေရန် ဖြစ်ပါသည်။

ဆက်လက်ပြီး အမျိုး၊ ဘာသာ၊ သာသနာနှင့်ယဉ်ကျေးမှု ဗဟုသုတနှင့် ပတ်သက်သော စာအုပ်ကောင်းများကိုလည်း ဆက်လက်ထုတ်ဝေသွားမည်ဖြစ်ပါသည်။



မောင်မျိုး

မြင့်မိုရ်မေမေစာပေ

## Publisher's Goodwill

I have tried to the best of my abilities for this color cartoon illustration to the young people especially for the children so that they can read religious books.

My intention is for the children and the young readers this book and get spirit and knowledge and to become clever and polite persons.

I will continue to publish the best books concerned with nationality, religion and help, teaching and culture.



Maung Myo

Myint Moh Maymay Literature

# မာတိကာ

| အကြောင်းအရာ | စာမျက်နှာ |
|---|---|


# Contact

| Subject | Pages |
|---|---|

# သေရွာပြန် မွန်မလေး

## The Resurrection of a Mon girl

'ကိုးဘွဲ့ရ သာသနာပြု ကျောင်းတိုက်ကြီး'ကို တည်ထောင်ပြီး သာသနာပြုနေတဲ့ ကျေးဇူးရှင်ဆရာတော် 'အရှင်အာစာရာလင်္ကာရ' (ကိုးဘွဲ့ရဆရာတော်)ဟာ ...

The ninth honorary titled Sayadaw Shin Arsara Lankara, after establish Buddhistic missionary work,





ဗုဒ္ဓဘာသာဝင် လူငယ်မောင်မယ်လေးတွေ အသိပညာတိုးပွား လိမ္မာရေးခြားရှိစေဖို့ ရည်ရွယ်ပြီး 'ယဉ်ကျေးလိမ္မာ အထူးတရားစခန်း' သင်တန်းကြီးတွေ ဖွင့်လှစ်သင်ကြားဟောပြပေးတော်မူလျက်ရှိပါတယ်။

To be able to attain Buddhistic knowledge and polite and clever younger generation, he preaches the way of good living.



တစ်နေ့မှာတော့ ကျေးဇူးရှင် ကိုးဘွဲ့ရဆရာတော် အရှင်အာစာရ လင်္ကာရဟာ သင်တန်းသား ကလေးငယ်တွေကို ဗုဒ္ဓမြတ်ဘုရားရဲ့ဂုဏ်တော်ပွားများခြင်းကြောင့် အံ့ဖွယ်အကျိုးထူးရပုံကို ဟောကြားတော်မူပါတယ်။
One day, the Sayadaw preaches the children how the good effect prevails by concentrating on Lord Buddha's sublime wisdom.











ဘုန်းဘုန်းက
အဲဒီလို ဟောကြားတဲ့အခါ
သားတို့သမီးတို့က ငြိမ်ငြိမ်လေး
နားယူမှတ်သားကြရမယ်နော်
While I am preaching you,
you must listen
carefully.

အဲဒီလို ငြိမ်ငြိမ်လေး
နားယူမှတ်သားရင် သားတို့
သမီးတို့ကို မုန့်ကျွေးမယ်
If you listen carefully,
I'll feed you with
snacks.

ငြိမ်ငြိမ်လေး မနားယူဘူး
ဆိုရင်တော့ ဘုန်းဘုန်းက
တုတ်ကျွေးမှာနော်
If you don't listen
carefully, I'll punish
you with a stick.

ကလေးတို့ မုန့်ကျွေးတာ ကြိုက်သလား၊ တုတ်ကျွေးတာ ကြိုက်သလား

What do you like snack or stick?

မုန့်ကျွေးတာ ကြိုက်ပါတယ်ဘုရား

We like snacks.

တုတ်ကျွေးတာတော့ မကြိုက်ပါဘူး ဘုရား

We don't like stick.

အေး ဒါဆို ငြိမ်ငြိမ်လေး နားယူကြ ဟုတ်လား

Yes, if so, please listen carefully.

တင်ပါ့ဘုရား

Yes, Your Highness.



မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်ကာလက ကောသလတိုင်း သာဝတ္ထိမြို့မှာနေတဲ့ သူဌေးကြီး အနာထပိဏ်ဟာ အစက ဘာသာခြားတစ်ဦးဖြစ်ပြီး ဗုဒ္ဓမြတ်ဘုရားဆိုတာ ကြားတောင်မကြားဖူးသူဖြစ်တယ်။

While Lord Buddha's discourse were flourishing, the rich man Anarhtapein who lived in Sravasti, Kauthala region, did not know about Lord Buddha.






ဟေး သူငယ်ချင်း ပါးစပ်ကတတွတ်တွတ်နဲ့ ဘာတွေ ထိုင်ရွတ်နေတာလဲကွ
Hey! Friend, what are you reciting?
အေး သူငယ်ချင်း လာကွာ ထိုင်
Yes, my friend, come and take a seat.


ငါရွတ်နေတာ ကိုးတွင်ပိသော ဘဂဝါ အစချီတဲ့ ဗုဒ္ဓမြတ်စွာဘုရားရဲ့ ဂုဏ်တော်တွေပွားများ ရွတ်ဆိုနေတာပါကွာ
I'm reciting the glorious omniscience of Lord Buddha.




ဗုဒ္ဓမြတ်စွာဘုရားဆိုတာ ကြားလိုက်ရတော့ အနာထပိဏ်သူဌေးကြီးဟာ အံ့အားကြီးသင့်သွားတော့တယ်။
When he heard the name Lord Buddha, the rich man Anarhtapein was wondered.


ဘယ် ဘယ်လို ဗုဒ္ဓမြတ်စွာဘုရား ဟုတ်လား
What? Lord Buddha? What's he?


ဟုတ်တယ်လေကွာ
Yes, of course.


ငါတို့မဇ္ဈိမတိုင်းမှာ ပွင့်တော်မူနေတဲ့ ဂေါတမ မြတ်စွာဘုရားရှင်ကို ပြောတာလေကွာ
Gautama Buddha of course, Lord attains enlightenment now in Mizzima region.

ဟာ ငါ အခုဒီ မြတ်စွာဘုရား
ဆိုတာကို အခုမှပဲ ကြားဖူး
တော့တယ်
I hear the name Lord Buddha just now.

အေး ဘုရားရှင်ဟာ
အင်မတန်ကြည်ညိုဖို့
ကောင်းတယ်ကွ
Yes, Lord Buddha is very adorable.

ဗုဒ္ဓမြတ်စွာဘုရားကို
မင်း ဖူးတွေ့ဖူးရင်လည်း
ကြည်ညိုမှာအမှန်ပဲကွ
If you pay homage to Lord Buddha, you will adore certainly.



ရာဇဂြိုဟ်သူဌေး ပြောလိုက်တဲ့စကားဟာ အနာထပိဏ်သူဌေးကြီးရဲ့နားထဲမှာ စွဲသွားတော့တယ်။

What the rich man from Rajagruha said was reverberated in his ears.







အိမ်အပြန်လမ်းတစ်လျှောက်မှာလည်း နားထဲမှာ ကြားယောင်လို့သာ နေတယ်။

Throughout the way back home, his ears were reverberated with the name Lord Buddha.

ဗုဒ္ဓမြတ်စွာဘုရား

Lord Buddha!

ဗုဒ္ဓမြတ်စွာဘုရား

Lord Buddha!



ညရောက်တော့လည်း အိပ်လို့မပျော်ဘဲ အဲဒီအသံတွေပဲ ကြားယောင်နေတော့တယ်။ At night he heard the voice about Lord Buddha.








ဗုဒ္ဓမြတ်စွာဘုရားဆိုတဲ့ အသံကို နားထဲမှာ ကြားယောင်ရင်း ပီတိတွေရင်ထဲမှာ လှိုင်းထလာတဲ့ သူဌေးကြီး အနာထပိဏ်ဟာ ဗုဒ္ဓမြတ်စွာဘုရားကို ကိုယ်တိုင်ဖူးတွေ့ချင်တဲ့ဆန္ဒတွေ ပြင်းစွာဖြစ်ပေါ် လာတော့တယ်။

Repeatedly he heard the voice Buddha and it made his mind calm. The rich man Anarhtapein wanted to pay homage by himself.



ဒီလိုနဲ့ သူဌေးကြီးဟာ တစ်ညလုံး အိပ်မပျော်နိုင်ဘဲ ပီတိလှိုင်းတွေ ရင်ထဲမှာ တဖျတ်ဖျတ် ရိုက်ခတ် နေတော့တယ်။

So the rich man Anarhtapein could not sleep the whole night.



ဗုဒ္ဓမြတ်စွာဘုရား
Buddha!
ဗုဒ္ဓမြတ်စွာဘုရား
Lord Buddha!



အဲဒီ ပီတိလှိုင်းရဲ့အဟုန်ကြောင့် သူဌေးကြီး အနာထပိဏ်ရဲ့ကိုယ်ခန္ဓာကနေ ကိုယ်ရောင်ကိုယ်ဝါတွေ ထွက်လာပြီး ဝန်းကျင်အနှံ့ လင်းထိန်သွားပါတော့တယ်။

Because of the impact of ecstasy, the body of the rich man Anarhtapein emitted the ray.





သူဟာ သူ့ရဲ့ကိုယ်ကနေ ကိုယ်ရောင်ကိုယ်ဝါထွက်နေတာကို သတိမမူမိဘဲ ဝန်းကျင်မှာ အလင်းရောင်တွေဖြာနေတာကို မိုးလင်းပြီလို့ ထင်သွားတော့တယ်။

He did not notiece the ray that it emitted from his body and the light in his room was due to the day light.






ဒီလိုနဲ့ နာထပိဏ်သူဌေးကြီးဟာ နေအိမ်ကနေ ထွက်ကာ မြို့ပြင်ကိုထွက်ခဲ့ပြီး ဗုဒ္ဓမြတ်စွာဘုရား သီတင်းသုံးနေရာ ကျောင်းတော်ဆီ ဦးတည်လာခဲ့တော့တယ်။

So the rich man Anarhtapein left the city and went to the monastery where Lord Buddha resided.



သူဟာ မြို့ပြင်ကိုထွက်လာရာ လမ်းခရီးမှာ သချိုင်းတစ်ခုကို ဖြတ်သန်းလာရတဲ့အခါ ...

When he went outside of the city, he passed a cemetery.



ဟာ ဒါ ဒါ သင်္ချိုင်းကြီးပဲ
ရှေ့ ရှေ့မှာလည်း အုတ်ဂူ
တွေ မြေပုံတွေ
Huh! This is the cemetery. There are tombs in the grave-yard.

သုသာန်ထဲ သူတစ်ယောက်တည်း ရောက်နေတာကို သတိပြုမိသွားတဲ့ သူဌေးကြီး အနာထပိဏ်ဟာ ထိတ်လန့်ချောက်ချားသွားတော့တယ်။
He noticed that he had been in the cemetery alone He was afraid of the situation.






အားပါးပါး ပုတ်စော်
ပုတ်စော်တွေ နံလိုက်တာ
Err! I smeil the rotten materials.


Oh! My!
အလိုလေး အရိုး
အရိုးခေါင်းကြီး
Alas! There is a skull.

အဲဒီလို ထိတ်လန့်ချောက်ချားနေရတဲ့ကြားထဲ ဆွဲဆွဲငင်ငင်အူလိုက်တဲ့ ခွေးအူသံတွေက သူဌေးကြီးကို သည်းအူတုန်သွားစေတယ်။

The howling of dogs acerbated the fear of the rich man Anarhtapein.

ငှက်ဆိုးကလည်း သုသာန်ဇရပ် ခေါင်မိုးပေါ်ကနေ ထိုးလိုက်သေး။

The bad night predatory birds cried loudly above the rest-house.




သူဌေးကြီး အနာထပိဏ်ဟာ ကြက်သီး ဖြန်းဖြန်းထအောင် ကြောက်စိတ်တွေ လွှမ်းမိုးလာတာကြောင့် ရင်ထဲကပီတိ တွေ လွင့်ပျောက်သွားတော့တယ်။

As he was frightened too much, his delight in his mind left away.

အဲဒီလို မြတ်စွာဘုရားအပေါ် အာရုံထားတဲ့ ပီတိတွေ လွင့်ပျောက်သွားတယ်ဆိုရင်ပဲ သူဌေးကြီးရဲ့ကိုယ်က ထွက်နေတဲ့ ကိုယ်ရောင် ကိုယ်ဝါတွေ ပျောက်ကွယ်သွားတော့တယ်။

When he had lost the adoration on Lord Buddha, his body light faded out.



ကိုယ်ရောင်ကိုယ်ဝါတွေ ပျောက်သွားတယ်ဆိုရင်ပဲ မိုးမလင်းသေးတဲ့အချိန်မို့ ဝန်းကျင်ဟာ မှောင်အတိကျသွားတော့တယ်။

As his body-light faded out, as it was not morning, the surrounding was dark.

အလိုလေး လေး
ည ညပြန်ရောက်
သွားပါလား
Alas! It becomes nighttime again.

ဘယ်လိုဖြစ်တာပါလိမ့်
ဘယ်လိုဖြစ်တာပါလိမ့်
I wonder, how it is like that.

မဖြစ်ဘူး မဖြစ်ဘူး
ငါ့အိမ်ဆီ ငါပြန်မှ
ဖြစ်မယ်၊ အိမ်ပြန်မှ
ဖြစ်မယ်
No, no. I had to go home.

သူဌေးကြီးဟာ ကြောက်ကြောက်နဲ့
အိမ်ပြန်လှည့်ပြေးဖို့ ခြေလှမ်းပြင်
လိုက်တယ်ဆိုရင်ပဲ ...

The rich man prepared
to go back.

သမ္မာဒေဝ နတ်ကောင်း
နတ်မြတ်တွေရဲ့ သတိပေး
လှံ့ဆော်သံကို ကြားလိုက်
ရတော့တယ်။

He heard the herald
of good angels.

သူဌေးကြီး မကြောက်ပါနဲ့
မတုန်လှုပ်ပါနဲ့ ဘုရားရှင်ကို
သင်ဖူးတွေ့ချင်တယ်ဆို
ဖူးတွေ့ချင်တယ်ဆို

Rich man, don't afraid
of it. Would you like
to pay homage
to Lord Buddha?







အဲဒီ အသံတွေကို နားထဲမှာ ကြားရတယ်ဆိုရင်ပဲ သူဌေးကြီးအနာထပိဏ်ဟာ ကြောက်စိတ်တွေ လွင့်ပျောက်ပြီး အားတက်သွားတော့တယ်။

As soon as he had heard those voice of encouragement his fear was thrown away.




ဟာ အသံတွေ
အသံတွေ
Huh! The voice!
The voice!


ဒါ့လိုပဲ ဘုရားရှင်ကို
သွားဖူးမယ့်လူတွေရဲ့
အသံတွေနဲ့တူတယ်
Those sound must be
from the people who
go to the Lord
Buddha.


ငါ့မှာအဖော်တွေရှိနေတာပဲ၊
ဘာကြောက်စရာရှိမှာလဲ သွားမယ်
သွားမယ် ဘုရားရှင်ရှိရာဆီ
သွားမယ်
I've so many companions.
I'll go on.

အဲဒီလို အားတက်ပြီး ဘုရားရှင်ကို သတိရကာ နှုတ်ကလည်း ပီတိဖြစ်စွာ တဖွဖွ ရေရွတ်မိတော့တယ်။

As he was encouraged, he recited with delight and went on.

ဗုဒ္ဓမြတ်စွာဘုရား

Lord Buddha!

ဗုဒ္ဓမြတ်စွာဘုရား

Lord Buddha!

ရင်ထဲမှာ ပီတိတွေပြန်ပြီး ဖြစ်ပေါ်လာတယ်ဆိုရင်ပဲ သူဌေးကြီးရဲ့ခန္ဓာကိုယ်ကနေ ကိုယ်ရောင်ကိုယ်ဝါတွေ ပြန်လည်ထွက်ပေါ်လာပါတော့တယ်။

When the ecstasy regained, the ray started to emit from his body.

ဒီလိုနဲ့ အနာထပိဏ်သူဌေးကြီးဟာ မြတ်စွာဘုရားရဲ့ကျောင်းတော်ဆီ ရောက်ရှိသွားကာ ...
Eventually, the rich man Anarhtapain had been to Lord Buddha's monastery.










သားတို့သမီးတို့ရေ အဲဒီလို ဗုဒ္ဓဘာသာဝင်မဟုတ်ခဲ့တဲ့ သူဌေးကြီး အနာထပိဏ်ဟာ
Children, for merly, the rich man Anarhtapein was not a Buddhist.


ဗုဒ္ဓမြတ်စွာဘုရားဆိုတာကို ကြားရရုံနဲ့ကြည်ညို သဒ္ဓါပွား လေးစားပြီး ပီတိဖြစ်ရုံလေးနဲ့ ကိုယ်ရောင်ကိုယ်ဝါတွေ ထွက်ပေါ်လာတာ
Only he heard the world Buddha he felt ecstasy and the ray emitted from his body.


ဘုရားရှင်ကို ဖူးတွေ့ခွင့်ရပြီးတဲ့နောက် ဗုဒ္ဓဘာသာဝင်ဖြစ်လာပြီး ဇေတဝန်ကျောင်းတော်ကြီးကို ဆောက်လုပ်ကာ ဘုရားရှင်သီတင်းသုံးဖို့ လှူဒါန်းနိုင်ခဲ့တာတွေဟာ
After he had paid homage to Lord Buddha, he sponsored the building of Zaitawun monastery for Lord Budha.

ဘုရားရှင်ရဲ့အမည်
နာမတော်ကိုကြားပြီး
ကြည်ညိုသဒ္ဓါ
ပွားခဲ့ရာက စခဲ့တာပဲကွဲ့.
It began for him when
he heard the word
'Buddha'.

ဒီတစ်ခါ
သားတို့သမီးတို့ကို ဗုဒ္ဓရဲ့ဂုဏ်တော်တွေကို
ပွားများတဲ့အတွက် သေဘေးကလွတ်ပြီး သေရွာ
ပြန်ခဲ့ရတဲ့ မွန်မလေးတစ်ဦးရဲ့အကြောင်း
ပြောပြမယ်ကွဲ့. သေချာနားကြားကြနော်
This time I'll tell you about a Mon girl who
resurrected from death by reciting
the Lord Buddha's glorious
omniscience.

တင်ပါ့ဘုရား
Yes, Your
Highness.

ရှေးဘုရင်တွေ အုပ်ချုပ်ခဲ့တဲ့ခေတ်ကာလတုန်းက ဟံသာဝတီမင်းနေပြည်တော်ကြီးမှာ ဘာသာခြားအယူ
ယူထားတဲ့ တိဿဆိုတဲ့ ဘုရင်က အုပ်ချုပ်လေရာ ...

In the age of foreign dominance with heretic belief. The name of this alien king was Teittha in Hamthawadi.

သူဟာ ဗုဒ္ဓဆင်းတုတော်တွေကို ဖျက်ဆီးစေတယ်။
စေတီပုထိုးတွေကို ဖြိုဖျက်စေတယ်။

He ordered to drag down the Buddha images and destroyed the pagodas.


ဗုဒ္ဓဘာသာဝင်တွေကို သတ်ဖြတ် ညှဥ်းဆဲတယ်၊ ပြီးတော့ တိုင်းပြည် အနှံ့ ကြေညာမောင်းခတ်စေတယ်။
The king ordered to torture and execute the Buddhist. Then he ordered to announce to the citizens.


တိုင်းသူပြည်သား လူအများတို့
Citizens, your attention please.


ဗုဒ္ဓဘာသာကို အဘယ် သူမျှ မကိုးကွယ်ရ
No one is allow to revere Buddhism.



ကိုးကွယ်သူမှန်သမျှ
မင်းပြစ် မင်းဒဏ်သင့်ကာ
သေဒဏ်အပြစ်ပေးခံရမည် ဘုရင်
မင်းကြီး တိဿ၏အမိန့်တော်

Those who adhere to Buddhism must be killed. That's the royal order.

ဘုရား ဘုရား ငါတို့တိုင်းပြည်ကို
မိစ္ဆာဘုရင် အုပ်ချုပ်နေပြီပဲ ငါတို့ကို
ဗုဒ္ဓဘာသာဝင်မှန်းသိရင် မင်းချင်းတွေက
သတ်ပစ်ကြလိမ့်မယ်

Oh! My! Our country has been ruled by heretic king will kill us.

တိုင်းသူပြည်သားတွေဟာ အဖမ်းခံရမှာ သေဒဏ်အပေးခံရမှာ ကြောက်လှတဲ့အတွက် သူတို့ကိုယ်သူတို့ ဗုဒ္ဓဘာသာဝင်လို့ မပြောရဲကြဘူး။ လူသိလည်း မခံဝံ့ကြဘူး။

The citizens were afraid of being marked as Buddhist.











ဒီတော့ ဗုဒ္ဓဘာသာဝင်ပြည်သူတွေဟာ ဘုရားဆင်းတုတော်တွေကို လုံခြုံအောင် ကွယ်ဝှက်သိမ်းဆည်းကြပြီး ...

So the Buddhist concealed the image of Lord Buddha.



လူသူလေးပါး မမြင်တွေ့နိုင်တဲ့ အချိန်မျိုးမှာမှ ဘုရားဆင်းတုတော်တွေကို ကြောက်ကြောက်လန့်လန့်နဲ့ ထုတ်ယူပြီး တိုးတိုးတိတ်တိတ် ကန်တော့ကြရရှာတယ်။

They carried the images to a safe place and revered secretly.



တချို့ အကြောက်လွန်သူတွေကျတော့လည်း သူတို့ကိုးကွယ်ထားတဲ့ ဘုရားဆင်းတုတော်တွေကို ရေထဲပစ်ချကြတယ်။

Due to paranoia, some people threw the Buddha images into the water.

ဆင်းတုတော်တွေ သိုဝှက်ထားတာသိသွားရင် အသတ်ခံရမှာ

If they know we are keeping the Buddha images we will be killed.

အချို့လည်း ချောင်းထဲ မြစ်ထဲပစ်ချ ပျောက်ဖျက်ပစ်ကြတယ်။

Some threw the Buddha images into the river and stream.

အဲဒီခေတ်ကာလမှာပဲ ဟံသာဝတီမင်းနေပြည်တော်မှာ မွန်သူဌေးကြီးတစ်ဦး ရှိတယ်။

During those situation, there was a Mon rich man in Hanthawadi.

အဲဒီသူဌေးကြီးမှာ အင်မတန်ချောမောလှပတဲ့ သမီးပျိုလေးတစ်ယောက်ရှိပြီး သူကလေးရဲ့ နာမည်က တလထော် ဖြစ်တယ်။

The rich man had a very beautiful daughter and her name was Talahtaw.



မြန်မာလို တရားသခင်မလို့ အဓိပ္ပာယ်ရတဲ့ တလထော်ဟာ ဗုဒ္ဓဘာသာဝင်လေးဖြစ်ပြီး ဘုရား တရား သံဃာ ရတနာသုံးပါးကို အင်မတန်မှ လေးစားကြည်ညိုသူလေး ဖြစ်ပါတယ်။

Talahtaw means mistress of discourse. Talahtaw was a Buddhist and she took refuge in Buddha, Dhamma, Sangha.



မြတ်ဗုဒ္ဓရဲ့ဂုဏ်တော်တွေကိုလည်း နေ့စဉ်မပြတ် ခပ်တိုးတိုး ရွတ်ဆို ပွားများ ကြည်ညိုလေ့ရှိတယ်။
She used to recite the glorious omniscience of Lord Buddha.

ဣတိပိသော ဘဂဝါ
အရဟံ သမ္မာသမ္ဗုဒ္ဓေါ
Itipitho Bagawa
Arahan Thamma
Thambuddhaw...

ဝိဇ္ဇာ စရဏ သမ္ပန္နော
သုဂတော လောကဝိဒူ
Wizzasarana
Thampandaw
Thugata Loka Widu.

တစ်နေ့ မနက်မှာတော့ တလထော်ဟာ အဖော်မိန်းကလေးတွေနဲ့အတူ ရေချိုးဖို့ တောစပ်က ချောင်းလေးဆီ သွားကြပြီး ...

One morning Talahtaw, along with other girls went to a stream to take a bath.



ချောင်းထဲမှာ ပျော်ရွှင်စွာ ရေဆင်းကူးကြ ရေဆင်းချိုးကြတော့တယ်။

They took a bath happily in the stream.









ရေအောက်ကြမ်းပြင်က သဲနုံးတွေထဲ တစ်ဝက်တစ်ပျက် မြုပ်ဝင်နေကြတဲ့ ဘုရားဆင်းတုတော်တွေကို မမျှော်လင့်ဘဲ တွေ့ရတော့တယ်။
At the bottom of the stream she found lots of submerged images in the sand unexpectedly.







တလထော်ဟာ သယ်နိုင်သမျှ ဆင်းတုတော်တွေကို သယ်ယူ ပင့်ဆောင်ကာ ရေပေါ်ကို ထိုးတက်ခဲ့တော့တယ်။
Talahtaw carried the Buddha images as possible as she could


ဟယ် ဘုရားဆင်းတုတော် တွေပါလား
Hei! Buddha statues.


ဟုတ်တယ်ဟဲ့ အားလုံးပေါင်း ရှစ်ဆူရှိတယ်၊ ရေအောက် ကြမ်းပြင်မှာ ငါတွေ့ခဲ့တာ
Yes, altogether six images that, I found at the bottom.









ပြောပြောဆိုဆိုနဲ့ တလထော်ဟာ
ရေထဲ ပြန်ငုပ်ပြီး ...

Talahtaw dived again into the water.


ဘုရားဆင်းတုတော် ရှစ်ဆူ စလုံးကို ဆယ်ယူခဲ့လေတယ်။
She could bring eight Buddha statues from the water.


ဦး ဦး
ဘုရားဆင်းတုတော်တွေကို နင် နင် ဘာလုပ်မလို့လဲ တလထော်
What would you like to do with those Buddha statue Talahtaw?


အိမ်ကိုပင့်သွားပြီး ကိုးကွယ်မှာပေါ့ဟ
I take them home and revere them.


အလိုလေး နင် သေဒဏ်
အပေးခံရမှာ မကြောက်ဘူးလား
ငါတို့တော့ကြောက်တယ်
Oh! My! Don't you afraid of death sentence?


အေး နင်တို့ကြောက်ရင် မပင့်ယူ
ကြနဲ့၊ ငါပဲ ပင့်သွားမယ် ဒါပေမဲ့
ငါ့အိမ်ဆီ ဝိုင်းကူပင့်ပေးကြပါဟာ
If you are afraid, don't bring them, but help me to bring those Buddha statues home.


အေးပါ လူသူလေးပါး
မမြင်အောင်တော့ သဘက်
နဲ့ ထုပ်ပြီးပွေ့သွားမှ
Yes, we will bring them with cover and secretly.

ဒီလိုနဲ့ တလထော်ဟာ ဘုရားဆင်းတုတော်တွေကို သူမရဲ့အိမ်ဆီ ပင့်သွားပြီး ...

In this way, Talahtaw brought the Buddha statues to her house.

ရိုသေစွာ ကိုးကွယ်တော့တယ်။

She adored them with respect.

တလထော် အဲဒီလို ဘုရားဆင်းတုတော်တွေ ကိုးကွယ်နေတဲ့သတင်းကို တစ်ဆင့်စကားနဲ့ တိဿ ဘုရင်ကြီးရဲ့နား ပေါက်ကြားသွားတော့တယ်။

Gradually, the king Teittha knew about the girl Talahtaw who adored the Buddha statues.

ဘာ တလထော်ဆိုတဲ့ ကောင်မလေးက ဗုဒ္ဓဆင်းတုတော်တွေကို ကိုးကွယ်နေတယ် ဟုတ်လား

Is the girl Talahtaw reveres the Buddha statue?

ဒါဟာ ငါဘုရင်ရဲ့ အမိန့်ကိုဖီဆန်တာပဲ

That is the act against my order.

သင်းကို ဖမ်းပြီး ဆင်နဲ့နင်းသတ်စေ

Arrest her and let the elephant stamps on her.


ဒီမှာတင် ရဲမက်တို့လည်း ဘုရင်ကြီး တိဿရဲ့အမိန့်နဲ့ တလထော်ဆီ ရောက်လာကြပြီး
With the order of the king Teittha, the soldiers came to Talahtaw's house.


ဖမ်းဆီးကာ တစ်ကိုယ်လုံး ကြိုးတုပ်လျက် ...
She was arrested and they tied her body with the rope tightly.

လမ်းမပေါ် ချထားလိုက်ကြတယ်။ အဲဒီနောက် ဆင်ဆိုးကြီးတစ်ကောင်ကို ခေါ်လာကြကာ ...

They let her lied down on the road and they brought the rogue elephant.

တလထော်ကို နင်းသတ်စေကြတယ်။

Then let the rogue elephant to tread on her.






တလထော်ကို ဆင်နဲ့နင်းသတ်မယ်ဆိုတဲ့ သတင်းကြောင့် မြို့နေလူထု ပရိသတ်ဟာ ခပ်လှမ်းလှမ်းကနေ ဝိုင်းအုံကြည့်နေကြလေရဲ့ ...

When the news of Talahtaw who was trodden by an elephant, the people came and looked from the distance.



အလိုလေး တလထော်ကို ဆင်နဲ့နင်းသတ်ကြတော့မယ်

Oh! My! Talahtaw will be trodden by an elephant.

ဟုတ်ပါရဲ့ဟယ် တလထော်လေး သနားပါတယ်

What a pitiful Talahtaw is!

အမယ်လေး သွေးသံရဲရဲ မြင်ရတော့မှာပါလား

Oh! I'm happened to be seen blood-shed.

ဝိုင်းကြည့်နေကြသူတွေက စိုးရိမ်တကြီး ဖြစ်နေကြပေမယ့် တလထော်ကတော့ လမ်းမပေါ်မှာထိုင်နေရင်းက ဘုရားရှင်ရဲ့ဂုဏ်တော်တွေကို ပွားများနေတော့တယ်။

However the people were afraid for her demise, Talahtaw with a solemn manner, stooped and recite the glorious omniscience of Lord Buddha.




တကယ်တော့ တလထော်ဟာ ဆင်နင်းပြီး အသတ်ခံရတော့မယ့် နောက်ဆုံးအချိန်မှာ ဗုဒ္ဓါနုဿတိ ဘာဝနာပွားရင်း ဘဝကို အဆုံးသတ်တော့မယ်လို့ ဆုံးဖြတ်ချက်ချကာ ဗုဒ္ဓဘုရားရဲ့ဂုဏ်တော်ကို ပွားများနေတာ ဖြစ်တယ်။

In reality, Talahtaw, for her last moment, she decided to terminate her life.



အဲဒီအချိန်မှာ ဆင်ဆိုးကြီးဟာ တလထော်ဆီ ဒေါသတကြီး မာန်ဖီကာ ပြေးလို့လာနေပြီ။

At that time, the rogue elephant rushed toward Talahtaw.









သို့ပေမယ့် ဆင်ဆိုးကြီးဟာ
တလထော်ရဲ့အနားလည်း
ရောက်ရော ...
But when the rogue elephant had been near Talahtaw.

သုဂတော လောကဝိဒူ အနုတ္တရော ပုရိသ ဒမ္မသာရထိ ...
Thugataw Lokawidu. Anotharo puritha Dhamma Tharahti.
တုန့်ခနဲ ရပ်သွားပြီး ...
The elephant stopped suddenly.

စုးစုးဝါးဝါး ထိတ်လန့်တကြား အော်ကာ ဆင်ကြီးဟာ ကြောက်ကြောက်လန့်လန့်နဲ့ နောက်ပြန်လှည့်ပြေးတော့တယ်။

The elephant, with alarming gesture, rushed back frighteningly.












ဒီလိုနဲ့ မင်းချင်းတို့နဲ့ အာဏာပါးကွက်သား
တွေဟာ တလထော်ရဲ့ကိုယ်ပေါ်ကို ကောက်ရိုး
တွေနဲ့ ဖုံးအုပ်ပြီး
So the soldiers and slaughterers heaped the straw over Talahtaw.







ဒါပေမဲ့ ဆင်ဆိုးကြီးက မနင်းဘဲ ထွက်ပြေးပြန်တယ်။
But the rogue elephant did not tread on it and ran away.
ဂိုး
ကျွိ


ဟာ ဆင်ကြီးက မနင်းဘဲ ထွက်ပြေးပြန်ပြီ မထူးဘူးကွာ အဲဒီကောက်ရိုးတွေကို မီးသာရှို့ကွာ
Huh! The elephant ran away. Burn that heap of straw.





ဒီလိုနဲ့ မင်းချင်းတွေနဲ့ အာဏာပါးကွက်သားတွေဟာ တလထော်ရဲ့အပေါ် ဖုံးအုပ်ထားတဲ့ ကောက်ရိုးတွေကို မီးရှို့ဖို့ကြိုးစားကြပေမယ့် မီးက မတောက်ပြန်ဘူး။

The soldiers and slaughterers set fire to the heap of straw. But the fire did not consume the straw.







ဒီလိုနဲ့ မင်းချင်းတွေနဲ့ အာဏာပါးကွက်သားတွေဟာ မြေတွင်းတူးပြီး ...

So the soldiers and slaughters dug the trench.



တလထော်ကို မြေတွင်းထဲ မြှုပ်မလို့ လုပ်နေကြတုန်း တီသဘုရင်ကြီးကိုယ်တိုင် ကြွရောက်လာတော့တယ်။

While the soldiers were about to bury Talahtaw alive, the king personally arrived there.



ဟေ့ ဒီမှာ တလထော် နင်အခု မရှုမလှ သေပွဲဝင်ရတော့မယ် သိရဲ့လား
Hey! Talahtaw, now you're going to die seriously.

တစ်နည်းမဟုတ် တစ်နည်းနဲ့ နင့်ကို မရရအောင် သတ်မယ်
I'll kill you by any means.

ကဲ အခု နင်သေရတော့မယ့် ဘေးကို နင်ကိုးကွယ်တဲ့ ဘုရားတွေက ကယ်နိုင်သေးရဲ့လားဟင်
Can the Buddha that you are adore, can save you.


အေး နင့်ကို အခွင့်အရေး တစ်ခုပေးမယ်
I'll give you a chance.


နင် ကိုးကွယ်တဲ့ ဘုရားတွေကို ကောင်းကင်ကနေ ကြွလာအောင်ဖိတ်ခေါ်ပေး
Invite your Buddha to come here from the sky


နင့်ဘုရားတွေ တကယ်ကြွလာရင် နင့်ကို သေဒဏ်ကနေလွှတ်ပေးမယ်
If your Buddha comes here I'll release you.

ဒီမှာတင် တလထော်ဟာ မြတ်စွာဘုရားရဲ့ ဂုဏ်တော်တွေကို အာရုံပြုပြီး သစ္စာအဓိဋ္ဌာန် ပြုလိုက်တယ်။

At that time, Talahtaw, with deep respect, she recited the glorious omniscience of Lord Buddha and made a vow.

အရှင်မြတ်ဘုရား တပည့်တော်မသည် ရှင်တော်မြတ်ဘုရားအား အသက်ထက်မက မြတ်နိုးကိုးကွယ် ကြည်ညိုသူဖြစ်ပါတယ်ဘုရား

Your Highness, I adore you more than my own life.



တပည့်တော်မသည် ဘုရင်ကြီး တိဿ အပေါ်မှာရော ရဲမက် မင်းချင်း အာဏာ ပါးကွက်သားတို့အပေါ်မှာရော ဆင်ဆိုးကြီး အပေါ်မှာပါ မေတ္တာမပျက်ပါဘူးဘုရား

I don't hate the king Teittha, his soldiers and rogue elephant.


ဤစကားတို့သည်
မှန်ပါ၏
That is truth.


ဤမှန်ကန်သော
သစ္စာစကားတို့၏ အဟုန်ကြောင့်
တပည့်တော်မ ကြည်ညို့ကိုးကွယ်
ထားသော ဆင်းတုတော်တို့သည်
Because of this true vow,
may my respectable
Buddha statues.


သက်ရှိဘုရားရှင်တို့ကဲ့သို့
အခုမကြာမီမှာပင် ကောင်းကင်ခရီးဖြင့်
ကြွမြန်းတော်မူကြပါစေ ဘုရား
Come to me as if they
were alive, come to me.

တလထော်က အဲဒီလို သစ္စာအဓိဋ္ဌာန်ပြုလိုက်တယ်ဆိုရင်ပဲ တလထော်ဆည်းကပ်ကိုးကွယ်ထားတဲ့ ဆင်းတုတော်တွေဟာ သက်ရှိဘုရားရှင်တို့လို ကောင်းကင်ခရီးနဲ့ ကြွမြန်းလာပါတော့တယ်။

As soon as Talahtaw had made a vow, the statues of Buddha images came down from the sky.



မင်းနဲ့ပြည်သူတို့ဟာ ကောင်းကင်ယံမှာ ဘုရားရှင်တွေ ရွှေရောင်တဝင်းဝင်းနဲ့ ကြွလှမ်းလာတာကိုလည်း ဖူးတွေ့ရရော အံ့ဩခြင်းကြီးစွာ ဖြစ်သွားကြရတော့တယ်။

The king and commoners were wondered when they saw the Buddha images coming down from the sky brightly.



ဗုဒ္ဓဘာသာဝင်တွေဆိုရင် လက်အုပ်လေးတွေချီပြီး မကန်တော့ဘဲ မနေနိုင်လို့ ကြည်ညိုလွန်းစွာ ကန်တော့ကြတော့တယ်။

All the Buddhist paid homage to the statues of Buddha images in unison.



တိဿဘုရင်ကြီးဟာ ကောင်းကင်ယံက ကြွမြန်းလာတဲ့ ဘုရားရှင်တွေကို တစ်လှည့် တလထော်ကို တစ်လှည့် သေဒဏ်သင့်မှာကိုပင် မကြောက်နိုင်တော့ဘဲ ကြည်ညိုလွန်းလို့ ဘုရားရှင်တွေကို လက်အုပ်လေးတွေချီပြီး ကန်တော့နေကြတဲ့ ...

The king Teittha looked at Talahtaw and statues of Buddha images came down from the sky alternately in amazement. Without fearing the death sentences at the bystanders paid homage to Buddha images.



လူထုပရိသတ်ကိုတစ်လှည့်ကြည့်ကာ သံဝေဂတရား ရသွားတော့တယ်။

The king repented for his misdeed.


အင်း ဗုဒ္ဓမြတ်ဘုရားရဲ့ ဂုဏ်ဟာ ကြီးမားလွန်းလှ ပါလား
Em! The dignity of Lord Buddha is very great.


ကြီးမြတ်လှတဲ့ဂုဏ်ရှင် ဗုဒ္ဓမြတ်ဘုရားကို ပြစ်မှား စော်ကားမိခဲ့တာ ငါအမှားကြီး မှားပြီ
I've done wrong against the noble Buddha.


တကယ်တော့ ဗုဒ္ဓမြတ်ဘုရားဟာ အမှန်တကယ် ကြည်ညိုလေးစား ကိုးကွယ်ထိုက်သူပါလား
Lord Buddha is really an adorable omniscience.

တီသဘုရင်ကြီးဟာ သံဝေဂတရား နောင်တကြီးစွာရပြီး ဗုဒ္ဓမြတ်စွာဘုရားကိုလည်း လွန်စွာ ကြည်ညိုသွားတော့တယ်။

The king Teittha was respected and he also revered the Buddha.



ဒါကြောင့် သူဟာ ဗုဒ္ဓဘာသာဝင်အဖြစ် ခံယူလာပြီး တိုင်းသူပြည်သားတွေကိုလည်း ဗုဒ္ဓမြတ်ဘုရားအား လွတ်လပ်စွာ ကိုးကွယ်ခွင့်ပြုလိုက်တော့တယ်။

The king became a Buddhist and let his citizens to adore and adhere the Buddhism freely.




ဒါ့ပြင် တိဿဘုရင်ကြီးဟာ တရား
သခင်မလေး တလထော်ကို မိဖုရား
ကြီး ဘဒြာဒေဝီအဖြစ် တော်ကောက်
မြှောက်စားကာ ...
Moreover the king praised
Talahtaw as his queen with
the title of the Buddra Devi.


တလထော်နဲ့အတူ အသက်ထက်ဆုံး
သာသနာပြုတော်မူလေတယ်။
The king, along with Talahtaw,
propagated the Buddhism.


သားတို့သမီးတို့ရေ
အဲဒီဖြစ်ရပ်လေးမှာ မွန်မလေး
တလထော်ဟာ ဗုဒ္ဓမြတ်ဘုရားရဲ့ဂုဏ်တော်
တွေကို ယုံယုံကြည်ကြည် မြတ်မြတ်နိုးနိုး
ရွတ်ဆိုပွားများတဲ့အတွက် သေဘေးကလွတ်ခဲ့တာ
မဟုတ်လားကွဲ့.
Children, in this story, the Mon
girl Talahtaw recited the glorious
omniscience of Lord Buddha.
So she was released
from punishment.


တင်ပါ့ မှန်ပါတယ်
ဘုန်းဘုန်း
Yes, Your
Highness.


အေး ဗုဒ္ဓမြတ်ဘုရားရဲ့
ဂုဏ်တော်တွေကို ကြည်ညိုလေး
စားစွာ ရွတ်ဆိုပွားများရင်
ထူးကဲတဲ့ အကျိုးခံစားရတတ်တယ်
ဆိုတာ မှတ်ထားကြနော်
All of you will be in well-being
when you recite the glorious
omniscience of
Lord Buddha.


တင်ပါ့ဘုရား
Yes, Your
Highness.


သားတို့သမီးတို့ရေ ဒီတစ်ခါတော့ လူဟာ ဘယ်လောက်ပဲဆင်းရဲမွဲတေနေပေမယ့် ကုသိုလ်ကောင်းမှုလုပ်ရင် အကျိုးထူးခံစားရကြောင်း ဖြစ်ရပ် ဆန်းလေးတစ်ခုအကြောင်း ပြောပြမယ်ကွဲ့ သေချာကြားနာကြနော်
Children, this time, I'll tell you about a girl who was though in poverty, because of her virtuous deed she get good effect.


တင်ပါ့ဘုရား
Yes, Your Highness.


အဲဒီအကြောင်းကိုတော့ နတ်ပြည်ရောက် ဆင်းရဲသူမလေးလို့သာ မှတ်လိုက်ပေတော့ကွယ်
Recognize that it is the poor girl who has been to the abode of celestial being.



# နတ်ပြည်ရောက်ဆင်းရဲသူမလေး

## The poor girl who has been to the abode of celestial being

စိတ္တကုဋ်တောင်ခြေနားက ရွာလေးတစ်ရွာမှာနေထိုင်တဲ့ ဓမ္မာဆိုတဲ့ ဆင်းရဲသူမလေးတစ်ဦးဟာ ...

Once upon a time, there was a girl named Dhamma, who lived in the foothill of Seittagut mountain.





အထီးကျန် မျက်နှာမွဲလေးအဖြစ်နဲ့ ထမင်းတစ်လုပ်အတွက် မိုးလင်းကမိုးချုပ် ဆင်းရဲပင်ပန်းစွာ လုပ်ကိုင်ရသူလေးဖြစ်တယ်။ သူမဟာ ရွာအပြင် တောစပ်က ဟင်းသီးဟင်းရွက်တွေခူးပြီး ...

To get a dainty morsel, she had to work from morning till night. She lived at the outside of the village and sold the vegetables.






ရွာစဉ်အနှံ့ လျှောက်ရောင်းရတယ်၊ ရေတွင်းက ရေခပ်ပြီး ရွာထဲမှာ လျှောက်ရောင်းရတယ်။
She sold thing along the village. She fetched water and sold it too.


သူများအိမ်မှာ အခစားနဲ့ အဝတ်လျှော်ရတယ်။ ဆန်ဖွပ်မောင်းထောင်းရတယ်။
She washed the clothes of others, pounded the rice.

ဒါပေမဲ့ အဲဒီဆင်းရဲသူမလေး ဓမ္မာဟာ ဆင်းရဲပေမယ့် စိတ်ဓာတ်ကျ ငေးငိုင်ငြိုးတွားနေသူလေးမဟုတ်ဘူး။

However she was a poor girl, Dhamma's mind did not break down.










သာသနာ့ဝန်ကို ထမ်းနေတဲ့ ရဟန်း သံဃာတော်တွေဟာ ကောင်းမှုမျိုးစေ့တို့ စိုက်ပျိုးရာ လယ်ယာမြေကောင်းနဲ့တူတယ်
Being a monk is just like sowing good seed.


ဒါကြောင့် ရဟန်းသံဃာတော်တွေကို လှူဒါန်းပြီး ငါ့ရဲ့ကောင်းမှုကုသိုလ် ကို ပြုရမယ်
So I'll donate to monk as a meritorious deed.
ဒီလိုနဲ့ သူဆင်းရဲမလေးဟာ ဆင်းရဲပင်ပန်းစွာ ရှာဖွေရရှိတဲ့ လုပ်အားခထဲကနေ ခြိုးခြံချွေတာ စုဆောင်းပြီး ...
In this way, the poor girl saved some money from her fees from labour.




တစ်နေ့ နံနက်မှာတော့ သံဃာတော်မြတ်တွေကို လှူဒါန်းဖို့ လမ်းလေးခွဆုံ တစ်နေရာကနေ သင်္ကန်းလေး ကိုင်လျက် စောင့်စားလို့နေတယ်။

In one morning, she waited at the junction to donate the robe to the monk.





အဲဒီလို စောင့်နေတုန်း သံဃာတော်မြတ်တစ်ပါး ကြွလာရာ •••

At that time, a monk came.


အရှင်မြတ်ဘုရား တပည့်တော်မ ဒီသင်္ကန်းလေးလှူလိုပါတယ်ဘုရား အလှူခံတော်မူပါဘုရား
Your Highness, I would like to donate this robe, please accept it.
သူဆင်းရဲမလေးဟာ အဲဒီလို တောင်းပန်ပြီး လက်ထဲက သင်္ကန်းကို ရိုရိုသေသေ ဆက်ကပ်လှူဒါန်းလေတယ်။
The poor girl said and handed over the robe to the monk.


အရှင်မြတ်ဘုရား တပည့်တော်မဟာ အင်မတန် ဆင်းရဲပါတယ်၊ ဆင်းရဲတဲ့ကြားက အလုပ်ကြမ်းမျိုးစုံလုပ်ကိုင်ပြီး လုပ်အားခလေးတွေထဲက စုဆောင်းပြီးမှ ဒီသင်္ကန်းကို ဝယ်ယူနိုင်ခဲ့တာပါဘုရား
Your Highness, now I'm in poverty. I save some money from hard labour. I bought this robe from my saving.









သံဃာတော်မြတ်ဟာ သူဆင်းရဲမလေး လှူဒါန်းတဲ့ သင်္ကန်းကို အလှူခံတော်မူသွားပြီး ...

The monk accepted the robe and ...




သီတင်းသုံးရာ ကျောင်းတိုက်ဆီ ပြန်ရောက်တဲ့အခါ သံဃာအစည်းအဝေး ခေါ်ယူဖို့အတွက် ကျောင်းတိုက်ကြီးမှာရှိတဲ့စည်ကို တီးလိုက်တော့တယ်။
When the monk arrived back to the monastery, to call on conference, he struck the drum.
အဲဒီလို စည်တီးလိုက်တယ်ဆိုရင်ပဲ ကျောင်းတိုက်ကြီးမှာရှိသမျှ သံဃာအပေါင်းဟာ စုဝေးရောက်ရှိလာကြတော့တယ်။
When the monk struck the drum, all the monks in the monastery congregated in the hall.



သံဃာတော်တွေစုံညီတဲ့အခါ အဲဒီအရှင်မြတ်က သင်္ကန်းကိုပြပြီး ဘယ်လိုအလှူခံရရှိလာတယ်ဆိုတာ ဦးစွာ ရှင်းပြတယ်။

When all the monks had been congregated, the monk showed the robe and explained how he got this robe.





သံဃာတော်တွေဟာ ရှုတ်တရက်တော့ ငြိမ်ကျသွားကြတယ်။ ခဏကြာတော့မှ သံဃာတစ်ပါးက ထလျှောက်တယ်။

All the monks did not ask any question. A moment later a monk asked.



တည့်တော်ကို အဲဒီ
သင်္ကန်းဝတ်ရုံခွင့်
ပြုပါဘုရား
Please give me
a chance to wear
this robe.

အဲဒီသင်္ကန်းကို ဝါတွင်းသုံးလတာ
ဝတ်ရုံပြီး ရဟန်းတရားပြီးမြောက်အောင်
ကျင့်ကြံအားထုတ်ချင်လို့ပါဘုရား
I would like to concentrate
on meditation by wearing
this robe throughout
Buddhistic lent.


အဲဒီအချိန်မှာ နောက်သံဃာတော်
တစ်ပါးက ထလျှောက်ပြန်တယ်။
At that time another monk asked.


အရှင်ဘုရားတို့ အဲဒီသက်န်းကို
တပည့်တော်ဝတ်ရုံပြီး ရဟန်းတရား
ပြီးမြောက်အောင် ကျင့်ကြံအားထုတ်ပါရစေ
Your Highness, I would also
like to use this robe and
concentrate on
meditation.


တပည့်တော်ကို နှစ်လပဲ
ဝတ်ရုံခွင့်ပြုပါဘုရား
Please allow me
to use this robe only
for two months.



နောက်တစ်ပါးက ထလျှောက်ပြန်တယ်။

The next monk asked.






အဲဒီလို ရဟန်းတော်တွေက တစ်ပါးပြီးတစ်ပါး ထလျှောက်ကြရာ ...

In this way one monk after another asked to use this robe.



နောက်ဆုံး ထလျှောက်တဲ့
ရဟန်းကတော့
The last monk asked.

တပည့်တော်ကို
အဲဒီသင်္ကန်း တစ်ရက်တာပဲ
ဝတ်ရုံခွင့်ပြုပါဘုရား၊ အဲဒီတစ်ရက်တည်းနဲ့
ရဟန်းတရား ပြီးမြောက်အောင် ကျင့်ကြံ
ချင်ပါတယ် ဘုရား
Please allow me to use this
robe only a day. I would like
to concentrate on meditation
up to accomplishment.

ဒီလိုနဲ့ နောက်ဆုံးမှာ တစ်ရက်တာ
ဝတ်ရုံခွင့်တောင်းတဲ့ ရဟန်းကို
အဲဒီသင်္ကန်းဝတ်ရုံခွင့်ပြုလိုက်ကြ
တော့တယ်။
At last, this monk who asked
for only a day, was allowed
to use this robe.

ဒီလိုနဲ့ ဝတ်ရုံခွင့်ရသွားတဲ့ရဟန်းဟာ သူဆင်းရဲမလေးလှူဒါန်းလိုက်တဲ့ သင်္ကန်းကိုဝတ်ရုံပြီး ...
The monk who was allowed to use this robe, took the robe which was donated by poor girl.





ကမ္ဗဋ္ဌာန်းအားထုတ်ရာ စင်္ကြံလမ်းမှာ စင်္ကြံလျှောက်ရင်း ဝိပဿနာ ရှုမှတ်ရာ ...
This monk, wearing this robe along the archway and

တစ်ရက်တာအတွင်းမှာပဲ အရဟတ္တမဂ် အရဟတ္တဖိုလ်ရကာ အာသဝေါကုန်ခမ်းပြီး ရဟန္တာဖြစ်သွားတော့တယ်။
Within a day this monk attained arhathood.




နောက်ရက်မှာတော့ အဲဒီသင်္ကန်းကို
နောက်ရဟန်းတစ်ပါးအား ဝတ်ရုံခွင့်
ပြုလိုက်ကြတယ်။
Next days this robe had been
allowed to use one monk after
another alternately.




အဲဒီရဟန်းလည်း အဲဒီသင်္ကန်းကိုဝတ်ရုံပြီး ဝိပဿနာတရား ရှုမှတ်ကျင့်ကြံရာ တစ်ရက်အတွင်းမှာပဲ
ရဟန္တာဖြစ်သွားလေတယ်။
This monk also attained arhathood within a day.



အဲဒီလိုနဲ့ သူဆင်းရဲမလေး လှူဒါန်းလိုက်တဲ့ သင်္ကန်းကို ရဟန်းတော်တွေဟာ တစ်ရက်ကိုတစ်ပါးကျ ဝတ်ရုံလျက် တရားကျင့်ကြကြရာ ...

The robe donated by a poor girl, was used all the monk with the rate one monk one day...



ဝါတွင်းသုံးလ ရက်ပေါင်း (၉၀)အတွင်းမှာပဲ ကျောင်းတိုက်ထဲမှာရှိတဲ့ ရဟန်းအပါး (၉၀)လုံး ရဟန္တာဖြစ်သွားကြတယ်။

Within three months (90) days, all the monks attained arhathood.





ဒီလိုနဲ့ ဝါလကင်းလွတ် သီတင်းကျွတ်လပြည့်နီးလာရာ မဟာပဝါရဏာနေ့မှာ မဟာပဝါရဏာပွဲတော်ကြီး ကျင်းပဖို့ ...

In this way, the Buddhistic lent was about to over the pawarana festival was approaching too.



ဗာရာဏသီပြည့်ရှင် ဘုရင်မင်းမြတ်က မှူးကြီးမတ်ကြီးတို့ကို တာဝန်ပေးတော်မူတယ်။

The king of Varanasi assigned his ministers.







ဒီရွှေနန်းတော်ထဲမှာ ရှိသမျှ အထည်ပိတ်စတွေထဲက အကောင်းဆုံး အဆင်အသွေး အလှဆုံးချည်ထည် ပိုးထည် ဖဲထည်တွေ ယူဆောင်သွားပြီး
Take all the best clothes including silk from my palace and


ခမ်းနားလှပစွာ ပြင်ဆင်စေ
Decorate the festival with grand scale.


အမိန့်တော်မြတ် အတိုင်းပါဘုရား
In accordance with your order.

ဘုရင်ကြီးရဲ့အမိန့်အတိုင်း မှူးမတ်တို့ဦးဆောင်ကာ ရွှေနန်းတော်ထဲက အကောင်းဆုံး အလှဆုံး အထည်ပိတ်စတွေ ယူဆောင်သွားကြပြီး ...

According to the king's order, the ministers carried the best fabrics.





စိတ္တဂုတ္တတောင်ခြေမှာရှိတဲ့ ကျောင်းတော်ကြီးက မဏ္ဍပ်ကြီးမှာ အလှပဆုံးဖြစ်အောင် ဆင်ယင်ကြတော့တယ်။

They embellished the pavilion at the monastery at the foothill of Seittagut mountain.

အဲဒီလိုနဲ့ သိမ်ကျောင်းတော် မဏ္ဍပ်ကြီးမှာ တံခွန် ကုက္ကား မုလေးပွားများနဲ့တကွ မျက်နှာကျက် ဗိတန်လိုက်ကာ အပြည့်အစုံတပ်ဆင်ပြီးတဲ့နောက် ...

In this way, the ordination hall and pavilion were decorated and embellished with variety of clothes.










အင်း ခက်တာက ခုအချိန်မှာ သာသနာ့ အလံရယ်လို့ သတ်သတ်မှတ်မှတ် မရှိသေးတော့ ကျုပ်တို့ယူလာတဲ့ အဝတ်အထည်တစ်ခုခုကိုပဲ အလံ လုပ်ပြီး လွှင့်ထူကြတာပေါ့ဗျာ
At that time, there is no particular religious flag. Let use our fabric as religious flag.

ဒါဆိုရင်တော့ အလှဆုံး အကောင်းဆုံး အဝတ်အထည် ကို ရွေးရမှာပဲဗျ
If so, let's choose the best and most beautiful fabric.

ဒီလိုနဲ့ မှူးကြီးမတ်ကြီးတို့ဟာ ရွှေနန်းတော်ကနေ ယူဆောင်လာတဲ့ အရောင်အသွေးလှတဲ့ အထည်စ တစ်ခုပြီးတစ်ခု အလံအဖြစ် လွှင့်ထူကြည့်ကြတော့တယ်။

In this way, the ministers chose the best of clothes which they broght from the palace. Then hoisted the flag.











ဒါဆို
ဒါလေးရောဗျာ
If so, what about this?

အဲဒီလို ရွေးချယ်ရခက်နေကြတုန်း ကျောင်းတိုက်ကြီးပေါ်ကနေ ရဟန်းတော်တွေ ဆင်းလာကြတယ်။
While they face difficulty in choosing the clothes, the monks went downstair from the monastery.

အဲဒါကျ အရောင်
တောက်လွန်းတယ်
It is too bright.




ဒကာတို့ ဘာလုပ် နေကြတာတုန်း
Lay-devotees, what are you doing?
တပည့်တော်တို့ အလံ ထူကြမလို့ပိတ်စ ရွေး နေကြတာပါဘုရား
We are choosing the cloth to hoist as a flag.


ဒါဆိုရင် ကျုပ်တို့ အကြံပြု လိုတယ်၊ ဟောဒီ သင်္ကန်းလေး ကိုပဲ အလံအဖြစ် လွှင့်ထူကြပါလား
If so, I would like to advise you. Use this robe as a flag.


အရှင်မြတ်တို့ဘုရား ဒါက သင်္ကန်းဟောင်းကြီးပဲ ဘုရား
Your Highness, it is an old robe.


သိမ်တော်မဏ္ဍပ်ကြီး တစ်ခုလုံးမှာ ကောင်းပေ့ ညွှန့်ပေ့လှပေ့ဆိုတဲ့ အဝတ်အထည် အကောင်းစားတွေနဲ့ ဖိတ်ဖိတ် တောက်အောင် တခမ်းတနား ပြင်ဆင်ထားပြီးကာမှ
The whole of ordination hall and pavilion are decorated with variety of best clothes.


ဒီလောက်ဟောင်းနွမ်းနေတဲ့ သင်္ကန်းကို အလံအဖြစ်လွှင့်ထူရမယ် ဆိုရင်အမြင်မသင့်မတင့်တယ်ပါဘူး ဘုရား
It won't be good to hoist the flag with an old robe.


ဪ ဒကာတို့က
သင်္ကန်းဟောင်းလေးဆိုပြီး
အထင်သေးနေကြတာကိုး
Oh! You look down the old robe like this.


အထင်မသေးလေနဲ့
ဒကာတို့ဒီသင်္ကန်းဟာ သာမည
သင်္ကန်းမဟုတ်ဘူး
This robe is not an ordinary one.


ဘယ်လိုများ
ထူးခြားနေလို့လဲ
ဘုရား
What is the specialty of it?

ဒီသင်္ကန်းကို ဝယ်ပြီး
လှူဒါန်းနိုင်ဖို့ ဓမ္မာဆိုတဲ့
သူဆင်းရဲမလေးဟာ

To donate this robe,
the poor girl named
Dhamma.

ခြောက်လလုံးလုံး သူတစ်ပါးအိမ်မှာ
အဝတ်လျှော် ရေခပ် ထင်းခွဲ စပါးထောင်းပြီး
ငွေအသပြာကို ဆင်းရဲပင်ပန်းစွာ ရှာဖွေ
ခဲ့ရတယ်ကွဲ့.

She fetched water, wash theclothes,
and pounding the rice at the other's
house and saved money.

အဲဒီလို ဆင်းဆင်းရဲရဲ
ပင်ပင်ပန်းပန်း လုပ်ကိုင်ရှာဖွေရရှိတဲ့
ငွေအသပြာလေးနဲ့
ဝယ်ယူလှူဒါန်းတဲ့ သင်္ကန်းပေမို့

With the fees from hard labour,
she bought this robe
and donated to us.

အင်မတန် မွန်မြတ်တဲ့ လူ့ဖွယ်ပစ္စည်းသင်္ကန်းဖြစ်ပေတယ်
That robe is the noblest of all clothes.

ပြီးတော့ ကျုပ်တို့ ရွှေကျောင်းတော်ကြီးက ရဟန်းအပါး (၉၀)လုံးဟာ
Moreover, the 90 monks from our golden monastery.

ဒီမွန်မြတ်လှတဲ့ သင်္ကန်းကို တစ်ရက်တစ်ပါးကျ ဝတ်ရုံပြီး ဝိပဿနာတရားပွားများ ကျင့်ကြံကြတဲ့အတွက် ရဟန်းတရားပြီးမြောက် ရဟန္တာအဖြစ် ရောက်စေခဲ့တယ်ကွဲ့.
Concentrated on meditation with this robe and they all attained arhathood.




ဒါကြောင့် ဒီသင်္ကန်းလေးဟာ သာသနာတော်အတွက် ကျေးဇူးကြီးလှပြီး အဖိုး မဖြတ်နိုင်လောက်အောင် တန်ဖိုးကြီးမားလှတာမို့
So this robe is very important for our religion. It is most valuable thing for us.


ဒီသင်္ကန်းလေးကိုပဲ သာသနာ့အလံအဖြစ် လွှင့်ထူပေးကြပါ ဒကာတို့
Hoist this robe as a religious flag.


သင့်မြတ်လှပါတယ် ဘုရား သင့်မြတ်လှပါတယ်
Very convenient and very good for the flag.

ဒီလိုနဲ့ မဟာပဝါရဏာပြုရာ သိမ်ကျောင်းမဏ္ဍပ်ကြီးရဲ့အဝင်ဝမှာ အဲဒီသင်္ကန်းဟောင်းလေးကိုပဲ သာသနာ့အလံအဖြစ် စိုက်ထူလိုက်ကြတော့တယ်။

In this way this old robe was used as the religious flag at the entrance of the ordination hall.



မကြာမီအချိန်မှာပဲ မဟာပဝါရဏာပွဲအတွက် ပြင်ဆင်ထားတာတွေကို ကြည့်ရှုစစ်ဆေးဖို့ ဘုရင်မင်းမြတ်ကြီး ကြွချီလာတော့တယ်။

Soon the king came to the pawarana festival to scrutinize how they had embellished.

ဘုရင်မင်းကြီးဟာ ပြင်ဆင်ထားတဲ့ မဏ္ဍပ်ကြီးကို
စစ်ဆေးကြည့်ရှုရာ ...
When the king supervised the decorations
of the pavilion.



အလံတိုင်ပေါ်က သင်္ကန်းဟောင်းလေးကို တွေ့မြင်သတိပြုမိသွားတော့တယ်။
The king saw an old robe on the flag pole.






ဟယ် မှူးကြီးမတ်ကြီးတို့ မဟာ ပဝါရထာပွဲတော်ကြီးကျင်းပဖို့ တခမ်းတနား ပြင်ဆင်ခိုင်းလိုက်ကာမှ
Your Majesty, the magnificent decorations have been made.


ကရော်ကမယ်နဲ့ ဒီလို သင်္ကန်းအဟောင်းကို အလံအဖြစ်လွှင့်ထူရသလား
Why do you hoist the old robe? What a nonsense!


ဘာကြောင့် အထည်စ ကောင်းကောင်းကို အလံအဖြစ် အသုံးမပြုကြတာလဲ
Why don't you use the best cloth as a religious flag?






မှန် မှန်လှပါအရှင်မင်းကြီး
ဒီသက်န်းဟောင်းလေးဟာ
အဖိုးထိုက်တန်မှုန်မြတ်လှတာမို့
သာသနာ့အလံအဖြစ် လွှင့်
ထူထားရတာပါဘုရား
Your Majesty, this old robe
is the most suitable and
noblest of all thing
for the flag.


ဘယ်လိုကြောင့်များတုန်း
အမတ်ကြီးတို့ရဲ့
Tell me, how
is that?


ဒီလိုပါ ဘုရား
....
It's like that,
Your Majesty.



မှူးကြီးမတ်ကြီးတို့က သူဆင်းရဲမလေး ဓမ္မာရဲ့အကြောင်းနဲ့ သင်္ကန်းလှူဖြစ်ခဲ့ပုံတို့ လျှောက်ထားကြပြီး ...

The ministers explained how the poor girl donated this robe.

သံဃာတော်တွေကလည်း အဲဒီသင်္ကန်းကို ဝတ်ရုံပြီး ဝိပဿနာတရား ကျင့်ကြံအားထုတ်ရာက ကျောင်းရှိ သံဃာအားလုံး ရဟန်းကိစ္စပြီးမြောက် ရဟန္တာဘဝ ရောက်ကြရပုံကို ရှင်းပြတော်မူကြလေတယ်။

The monks using this robe and concentrated on vipassana became arhathood.



အဲဒီလောက်
ကျေးဇူးကြီးလှတဲ့
သင်္ကန်းပါပဲ ဒကာတော်မင်းကြီး
The robe which brings great gratitude for the dispensation of Buddhism.

ဪ အဲဒီလိုလား
ဘုရား
Oh! Is it like that?

ဒါဆိုရင်တော့ သာသနာ့
အလံအဖြစ် လွှင့်ထူထိုက်တဲ့
သင်္ကန်းပါပဲ ဘုရား
If so, this robe is deserved to be the religious flag.


ဘုရင်မင်းကြီးဟာ ကျေနပ်အားရတော်မူလှတဲ့အတွက် သက်နီးအလုပ္ပရှင် သူဆင်းရဲမလေးကို အခေါ်ခိုင်းလိုက်တယ်။
As the king was so satisfied that he ordered his men to call on this poor girl.
မှူးကြီးမတ်ကြီးတို့ သူဆင်းရဲမလေး ဓမ္မာကို သူကောင်းပြုလိုတယ်
Ministers, I would like to praise this poor girl.


ဓမ္မာကို ငါ့ရှေ့တော်မှောက်ဆီ အမြန်ဆုံးအခစားရောက်စေဖို့ ဆင့်ခေါ်စေ
Bring this poor girl Dhamma in front of me soon.


အမိန့်တော်မြတ် အတိုင်းပါဘုရား
Yes, Your Majesty.



မှူးကြီးမတ်ကြီးတို့လည်း မင်းချင်းတို့ကို စေလွှတ်ကာ ဓမ္မာကို အခေါ်ခိုင်းကြရတယ်။

The ministers called on the courtiers to bring the poor girl Dhamma.










မင်းချင်းတို့ခေါ်ဆောင်လာပြီးတဲ့နောက် သူဆင်းရဲမလေး ဓမ္မာဟာ ဘုရင်မင်းကြီးရဲ့ ရှေ့တော်မှောက် အခစားရောက်လာတဲ့အခါ
When the courtiers brought her, the poor girl Dhamma arrived in front of the king.


သူငယ်မ သင့်ရဲ့သာသနာတော်အပေါ်မှာ ကြည်ညိုသဒ္ဓါတရားထားမှုဟာ အံ့သြချီးကျူးထိုက်ပေတယ်
Girl, your enthusiasm on Buddhism is deserved to be praised.



သင့်ရဲ့သာသနာတော်အပေါ်ထားရှိတဲ့
ကြည်ညိုသဒ္ဓါတရားအတွက် ငါ
ကိုယ်တော်မြတ်ချီးမြှောက်လိုတယ်

I would like to praise your
enthusiasm on the
Buddha's sermon.

ဘုရင်ကြီးဟာ ရွှေငွေရတနာ
ဆုလာဘ်များစွာ ပေးသနားတော်
မူတယ်။

The king rewarded her with
gold, silver and jewelries.




ဒီလိုနဲ့ ဓမ္မာဟာ ရွာစားမလေး ဖြစ်သွားတော့တယ်။

In this way Dhamma became the headmistress of the village.

ဓမ္မာဟာ သူဆင်းရဲမလေးဘဝကနေ ချမ်းသာကြွယ်ဝတဲ့ ရွာစားမလေး ဖြစ်သွားပေမယ့် ဘဝင်မမြင့်ဘဲ စိတ်နှလုံးသားဖြူစင်သူလေး ဖြစ်ကာ ...

However she became from poor girl to rich girl, her mind was simple and honest.



ဘာသာ သာသနာကို ကြည်ညိုလျက် သာသနာ့ဝန်ထမ်း ရဟန်းတို့ကို လှူမြဲလှူဒါန်းလေ့ရှိတယ်။

She adhere to Buddhism and donated the monks regularly.

ဒါကြောင့် ဓမ္မာရဲ့ကောင်းသတင်းတွေဟာ
မွှေးပျံ့သည်ထက် မွှေးပျံ့လာရာ ...

So, Dhamma's good reputation
spread far and wide.


ဘုရင်မင်းကြီးဟာ နှစ်ထောင်းအားရရှိလှတာနဲ့ ဓမ္မာကို သမီးတော်လေးအဖြစ် မွေးစားလိုက်တော့တယ်။
As the king like her and adopted her as his own daughter.


ဒီနေ့ကစပြီး ဓမ္မာဟာ ငါကိုယ်တော် မြတ်ရဲ့မွေးစားသမီးတော်အဖြစ် ရွှေနန်းတော်ကြီးမှာ စံစားစေ
From that day, Dhamma becames my daughter. Let her live in the palace.


ဒီလိုနဲ့ ဓမ္မာဟာ ဘုရင့်သမီးတော်လေးဖြစ်လာခဲ့ပြီး ဓမ္မာ မင်းသမီးလေးလို့ ထင်ရှားကျော်ကြားလာတော့တယ်။
In this way Dhamma became a princess.

လှပချောမောလှတဲ့ ဘုရင့်သမီးတော်လေး ဓမ္မာကို အတိုင်းတိုင်းအပြည်ပြည်က မင်းညီမင်းသားတွေနဲ့ သူဌေးသူကြွယ်ရဲ့သားတွေက လက်ဆက်လိုလို့ ချဉ်းကပ်ကြပေမယ့် ...

As the princess Dhamma was very beautiful, the princess from other countries wanted to marry her.

ဓမ္မ မင်းသမီးလေးဟာ ဘယ် ပုရိသ ယောကျ်ားကိုမှ စိတ်ဝင်စားခြင်း မရှိ တဲ့အတွက် ...

But the princess Dhamma did not interest in other princes.

အိမ်ရာတည်ထောင်ခြင်းမပြုဘဲ တစ်သက်လုံး အပျိုစင်ဘဝကို ထိန်းသိမ်းကာ အပျိုစင်သီလ (ကောမာရ ဗြဟ္မာစရိယ) မြတ်သော အကျင့်ကိုကျင့်လေရာ •••

She lived lonely as a spinster and practised noble deed.

လူ့သက်တမ်း ကုန်ဆုံးတဲ့အခါ တုသိတာ နတ်ပြည်မှာ နတ်သမီးလေးဖြစ်သွားတော့တယ်။

At the end of human life she became an angel.


ကဲ သားတို့သမီးတို့ရေ ဆင်းရဲ
မွဲတေပေမယ့် စိတ်ဓာတ်မကျဘဲ
ကောင်းမှုပြုတဲ့အတွက်
However she was a poor
girl her mind did not
break down.


ဓမ္မာဆိုတဲ့ သူဆင်းရဲမလေးဟာ
နတ်သမီးလေး ဖြစ်သွားရတဲ့
အကြောင်း သိကြပြီလား
You have known that
the poor Dhamma became
an angel Dhamma.


သိကြပါပြီ
ဘုရား
Yes, Your
Highness.


အေး ဒီတော့ ဘယ်လိုဘဝ အခြေအနေမှာပဲဖြစ်ဖြစ် ဆင်းရဲသည်ဖြစ်စေ ချမ်းသာသည်ဖြစ်စေ ကောင်းမှုအလုပ်ကို လုပ်ရင် ကောင်းကျိုးခံစားရစမြဲပဲကွဲ့.
No matter how rich or poor, you'll be good if you do good deed.


ဒါကြောင့် သားတို့သမီးတို့ရဲ့ ဘဝတစ်လျှောက် ကောင်းမှုအလုပ်များများလုပ်နိုင်ကြပါစေကွယ်
So you must do good thing throughout your lives.
ပေးတဲ့ဆုနဲ့ ပြည့်ရပါလို၏ဘုရား
May we be able to fulfilled.


သာဓု သာဓု သာဓု
Well done! Well done! Well done!
ပြီး
End.